ပန်းအသွင်ဖြင့် မြင်ရမည်။ ဆူးနှယ်အရည်အသွေးရှိသူများကို ဆူးအသွင်ဖြင့် မြင်ရပါလိမ့်မည်။

ဤသို့သော လူသား၏ကိုယ်ရည်ကိုယ်သွေး ဘက်နှစ်ဖက်ကို အနုတ်လက္ခဏာဘက်နှင့် အပေါင်းလက္ခဏာဘက်ဟူ၍လည်း သတ်မှတ်ခေါ်ဝေါ်နိုင်ပါသည်။ ယနေ့လောကကြီးတွင် လူတိုင်းသည် အနုတ်လက္ခဏာ သဘောများကို တွေ့ကြုံနေကြရပါသည်။ အနုတ်လက္ခဏာသဘောဟု မသိမြင်ဘဲ ဤအရည်အသွေးကို မိမိကိုယ်မှာ တပ်ဆင်လိုက်လျှင် အနုတ်လက္ခဏာဘက်သားဖြစ်သွားပေလိမ့်မည်။ မိမိတွေ့ကြုံရသည့် အနုတ်လက္ခဏာသဘောကို အပေါင်းလက္ခဏာဘက်ပြောင်းပြီး အပြုသဘောတွေးခေါ်မည်။ သင်ခန်းစာထုတ်ယူမည်ဆိုလျှင်မူ ထိုသူ၌ အပေါင်းလက္ခဏာကိုယ်ရည်ကိုယ်သွေးများ ဖွံ့ဖြိုးလာပါလိမ့်မည်။

ဥပမာ–တစ်စုံတစ်ယောက် သင့်ကိုမတရားလုပ်လျှင် ဒုက္ခပေးလျှင် စော်ကားလာလျှင် သင့်မှာ တုံ့ပြန်ရန် နည်းလမ်းနှစ်သွယ်ရှိသည်။ တစ်နည်းမှာ လက်စားချေသောနည်းဖြစ်သည်။ ယင်းသို့လက်စားချေလျှင် သင်လည်း သူတစ်ပါးကို ဒုက္ခပေးခြင်း၊ နာကျင်စေခြင်း၊ မတရားပြုလုပ်ခြင်းပင်ဖြစ်သည်။ လက်စားချေသော အပြုအမူသည် မကောင်းသောအမူအကျင့်ဖြစ်ပါသည်။

ယင်းကဲ့သို့ လက်စားချေခြင်းဖြင့် သူသည် အနုတ်လက္ခဏာ ကိုယ်ရည်ကိုယ်သွေးများဖွံ့ဖြိုးလာနိုင်ပါသည်။ သူသည် ဆူးသက်သက်ကို စိုက်ပျိုးသူဖြစ်ပါသည်။ သေပြီးနောက် အဆုံးမဲ့လောကကြီးတွင်သူသည်ဆူးနှင့်တူသော ကိုယ်ရည်ကိုယ်သွေးမျိုး ဖြစ်ပေါ်ထင်ရှားလာပါလိမ့်မည်။ ထို့နောက် ဆူးပွမ်းသောတော၌ နေရာချထားခြင်းခံရပါလိမ့်မည်။ သူ၏ဘဝတွင် အဆုံးမရှိသော သောကများ ရိုက်ခတ်ပြီး စိတ်ပျက်အားငယ်ရပါလိမ့်မည်။

ထိုသူနှင့် အတော်ပင်ခြားနားသောသူကား အနုတ်လက္ခဏာအခြေအနေကို အပေါင်းလက္ခဏာ အပြုအမူများဖြင့် တုံ့ပြန်သူဖြစ်သည်။ တစ်ပါးသူက သူ့ကို မတရားပြုမူသော်လည်း သူက မတရားသောနည်းဖြင့် ပြန်လည်တုံ့ပြန်ခြင်းမပြု။ တစ်ပါးသူများက သူ့အား စိတ်ဆင်းရဲစေသော်လည်း သူကမူ တစ်ပါးသူအား စိတ်ဆင်းရဲအောင်မပြုမူ။ ဒုက္ခပေးခံရလျှင် စော်ကားရန်စခံရလျှင်လည်း ပြန်လည်မတုံ့ပြန်ပေ။ ထိုသို့သောသူမှာ ဆူးများအလယ်မှပန်းတစ်ပွင့်ပမာ နေထိုင်သူဖြစ်သည်။ လောကကြီးတွင် ဘုရားသခင်ကို မမြင်သော်လည်း ဘုရားသခင်ကို ရှာဖွေတွေ့ရှိသည်။ ဘုရားသခင်ကို ရိုကျိုးကိုင်းညွှတ်သော အပေါင်းလက္ခဏာဆောင်ဘဝဖြင့် ရှင်သန်သည်။ ဘုရားသခင်၏ကောင်းချီးပေးမှုကို သူရယူနေသည်။ ပန်းလေးတစ်ပွင့်နှယ်သူ၏ ကိုယ်ရည်ကိုယ်သွေးကို ဖန်တီးတည်ဆောက်နေသူဖြစ်သည်။ ထို့ကြောင့် သေလွန်ပြီး နောက်ဘဝတွင် ပန်းဥယျာဉ်ထဲတွင်နေရမည့် အခွင့်အရေးကို သူရရှိမည်ဖြစ်သည်။

**ပန်းအသွင် ကိုယ်ရည်ကိုယ်သွေးကို မည်သို့တည်ဆောက်ကြမည်နည်း။**

လူ၏ ဦးနှောက်တွင် အဓိက အပိုင်း ၂–ပိုင်းရှိပါသည်။ သိစိတ်ပိုင်းနှင့် မသိစိတ်ပိုင်း ဖြစ်သည်။ အတွေးတစ်ခု လူ့စိတ်ထဲဝင်လာသည့်အခါ ရှေးဦးစွာ သိစိတ်က အလုပ်လုပ်သည်။ အကြောင်းကြောင်းကြောင့် တဖြည်းဖြည်း မသိစိတ်သို့ရောက်သွားသည်။ လူ၏ သိစိတ်က ဖမ်းယူထိန်းသိမ်းမထားသော်လည်း မသိစိတ်ကမူ အလုံးစုံသော အတွေးများကို အမြဲထိန်းသိမ်းထားသည်။ ပန်းအသွင် ကိုယ်ရည်ကိုယ်သွေးကို ရယူလိုသူတိုင်းသည် အနုတ်လက္ခဏာ အတွေးများ သူ၏စိတ်တွင်ဖြစ်ပေါ်လာတိုင်း အပေါင်းလက္ခဏာအတွေးများ အဖြစ်ပြောင်းပေးရလိမ့်မည်ဖြစ်သည်။ အကျိုးဆက်အနေဖြင့် နောက်တစ်ဆင့်တွင် အဆိုပါအတွေးများသည် မသိစိတ်အတွင်းသို့ ပြောင်းလဲ ရွှေ့လျားသွားသည့်အခါ အနုတ်လက္ခဏာသဘောရှိသည့် အတွေးထက် အပေါင်းလက္ခဏာသဘောရှိသည့် ကောင်းသောအတွေးကိုသာ ထိန်းသိမ်းထားပေလိမ့်မည်။

ဥပမာ–သူ့သိစိတ်တွင် တစ်စုံတစ်ရာ မုန်းတီးစိတ်ဝင်လာလျှင် မုန်းတီးစိတ်ကို ချေပြီး ချစ်ခင်နှစ်သက်သည့် စိတ်အဖြစ် ပြောင်းလဲရမည်ဖြစ်သည်။ မနာလိုဝန်တိုစိတ်များ စိတ်ထဲဝင်လာလျှင် ကျေနပ်နှစ်သက်တတ်သောစိတ်၊ ဂုဏ်ယူချီးကျူးတတ်သောစိတ်ကို ပြောင်းလဲသင့်သည်။ အတ္တစိတ်ဖြစ်ပေါ်လာလျှင် နှိမ့်ချ အလျှော့ပေးစိတ်ကို ပြောင်းလဲသင့်သည်။ တစ်ကိုယ်ကောင်းဆန်သည့် စိတ်ကို အများအကျိုးသယ်ပိုးစိတ်အဖြစ် ပြောင်းပစ်သင့်သည်။ အလားတူ သူ၏အခွင့်အရေးများကို တားဆီးပိတ်ပင်ခံရသည်ဟု တွေးမိလျှင် မတရားမှုအတွက်နာကျည်းခံပြင်းစိတ်များကို ကျေးဇူးသိစိတ်အဖြစ်ပြောင်းလဲပစ်သင့်သည်။

ဤကဲ့သို့သော ကိုယ်ရည်ကိုယ်သွေးများကို အောင်အောင်မြင်မြင် တည်ဆောက် ထိန်းသိမ်းထားနိုင်ကြသော အမျိုးသားအမျိုးသမီးတို့သည် မိမိတို့၏ အသိစိတ်၌ အပေါင်းလက္ခဏာဆောင် အကောင်းမြင်စိတ် ရတနာ တစ်ပါးကို သိုလှောင်ထားနိုင်စွမ်းရှိကြောင်း တွေ့ရပါလိမ့်မည်။ အဆိုးမြင်စိတ် လုံးဝကင်းလွတ်လာပေလိမ့်မည်။ ဤသည် သေလွန်ပြီးနောက် အဆုံးမဲ့ ကောင်းကင်ဘုံဥယျာဉ်ထဲတွင် နေရာရစေမည့် အရည်အသွေးပင်ဖြစ်သည်။ ထိုဥယျာဉ်၌ စဉ်ဆက်မပြတ် ပျော်ရွှင်ကြည်နူးမှုနှင့် ကောင်းချီးမင်္ဂလာတို့ကို ခံစားကာ မိမိတို့၏ ဘဝကို ဖြတ်သန်းရပါလိမ့်မည်။

---

အချက်အလက်များ ပိုမိုသိရှိလိုပါက ဆက်သွယ်ရန်–
Positive Thinkers Forum
Peace and Spirituality Centre
Bangalore 560 022, India.
Tel : 091 23376184 Cell : 09342899616
E-mail: al-falah@live.com
E-mail: ptf.myanmar@gmail.com
Visit at www.cpsglobal.org www.cps.org@live.com



# The Ideology of Life

Maulana Wahiduddin Khan

# ဘဝအမြင်



ဆရာကြီး W. ခန်း



–ကန့်သတ်–
(ဓမ္မဒါန)

# ဘဝအမြင်

လူသည် စူးစမ်းလေ့လာတတ်သော သဘာဝနှင့်အတူ မွေးဖွားလာသည်။ ဤအချက်ကပင် အခြားသောမျိုးစိတ်များ၊ သက်ရှိများနှင့် ကွဲပြားခြားနားချက်ဖြစ်သည်။ ဆင်ခြင်တုံတရား၊ အသိဉာဏ်၊ ပါရမီရှိသည့်အတွက် လူသည် သူ၏ပတ်ဝန်းကျင်ရှိ အဖြစ်အပျက်များ၊ လှုပ်ရှားမှုများကို အဖြေရှာသည်။ သို့သော်အကူအညီမရရှိပါ။ 'ငါဘယ်သူလဲ' 'ငါ ဘယ်က ရောက်လာသလဲ' 'ငါ့ရဲ့ဘဝရည်မှန်းချက်ကဘာလဲ' 'ဘာကြောင့် ငါတို့ လိုချင်တပ်မက်မှုတွေ မြားမြောင်နေရတာလဲ' 'လွတ်လပ်တဲ့ စိတ်ဆန္ဒ ဒါမှမဟုတ် ကံကြမ္မာက ဘဝကို စီမံနေတာလား' 'ကမ္ဘာလောကကြီးမှာ ဘာကြောင့် ဒုက္ခတွေ ရှိနေရတာလဲ' 'ထာဝရဘုရားသခင် အစစ်ပဲ တည်ရှိနေပါသလား' 'အပြစ်က လွတ်ကင်းစေဖို့ ငါ ဘာတွေလုပ်ရမလဲ' 'ယနေ့ ငါဘာကြောင့် အသက်ရှင်နေရပါသလဲ' 'သေပြီးနောက် ဘာတွေဖြစ်လာမှာလဲ'ဟူသည့် ဘဝအတွေးအမြင်နှင့် ဆက်စပ်ပတ်သက်သည့် ပုစ္ဆာကို အဖြေရှာမတွေ့ခဲ့ပါမူ လူသည် မနားမနေတွေးတော ဆင်ခြင်အဖြေရှာနေမည်သာဖြစ်သည်။ မည်သို့ပင်ဖြစ်စေ အမေးပုစ္ဆာတွေ များနေသော်လည်း အဖြေက တစ်ခုတည်းသာဖြစ်သည်။ ယင်းမှာ ဘဝအတွေးအမြင် ရှိလျှင်ရှိသလောက် ဆင်ခြင်တုံတရားကို အခြေခံသည့် လူဖြစ်ရခြင်း ရည်ရွယ်ချက်ကို နားလည်သဘောပေါက်ခြင်းဖြစ်သည်။

## လူသား၏ဘဝအမြင်ဟူသည်

ဘဝအမြင်ဆိုင်ရာ အစွဲလာမ့်အယူအဆအရ 'လူသည် ပျော်ရွှင်ချမ်းမြေ့မှုကိုရှာဖွေနေသော သတ္တဝါဖြစ်သည်'။ လူတွင် လိုအင်ဆန္ဒမြောက်မြားစွာရှိပြီး သူ၏လိုအင်ဆန္ဒများကို ဖြည့်ဆည်းပေးနိုင်သော လောကကိုဖန်တီးရန် တွေးတော ရှာဖွေလျက်ရှိသည်။ သို့သော်လည်း အဆိုပါရည်မှန်းချက်ကို တစ်စုံတစ်ယောက်မျှ အောင်အောင်မြင်မြင် မလျှောက်လှမ်းနိုင်ပါ။ လူတိုင်းသည် ဘဝ၏ အလိုဆန္ဒများကို မဖြည့်ဆည်းနိုင်၊ ပန်းတိုင်ကို မရောက်ဘဲ သေဆုံးသွားကြရသည်။

သို့သော်လည်း အထက်ပါ ကံကြမ္မာအကျိုးပေးသည့် အခြားသော သက်ရှိသတ္တဝါများနဲ့ မသက်ဆိုင်ဘဲ လူသားအတွက် သီးသန့်ဖြစ်နေသည်။ သိထားကြသည့်အတိုင်း ရုပ်လောကအတွင်းရှိ တောင်များ၊ မြစ်များ၊ ကြယ်တာရာများစသည့် အရာအားလုံးတွင် လိုအင်ဆန္ဒ လုံးဝမရှိပေ။ ထို့ကြောင့်လည်း လိုအင်ဆန္ဒမပြည့်သည့် ပြဿနာမှကင်းလွတ်နေကြသည်။

လိုအင်ဆန္ဒမပြည့်ဝသည့် ပြဿနာမှာ ရုပ်လောကကဲ့သို့ပင် သက်ရှိတိရစ္ဆာန်များ၌လည်း များစွာခြားနားမှုမရှိပါ။ တိရစ္ဆာန်များ၏ လိုအင်ဆန္ဒကို များစွာကန့်သတ်ထားသည်။ ဥပမာ အစားအစာနှင့်ပတ်သက်၍ တိရစ္ဆာန်တို့၏ လိုအင်ဆန္ဒမှာ လက်ရှိကာလ ကွက်ကွက်လေးအတွက်သာ အကန့်အသတ်နှင့် ဖြစ်သည်။ မနက်ဖြန်အတွက် တိရစ္ဆာန်များတွင်သောကမရှိပါ။ မနက်ဖြန်အတွက် အစာကို သိုမှီးထိန်းသိမ်းထားလိုသည့် ဆန္ဒလည်းမရှိကြပါ။ လတ်တလောအချိန်အတွက်သာ ၎င်းတို့အတွက် အစာလိုအပ်သည်။ အစာကို ရှာဖွေနိုင်ကြသည်။ ထို့ကြောင့် တိရစ္ဆာန်များသေဆုံးသည့်အခါ ၎င်းတို့ အသက်ရှင်နေစဉ်ကာလအတွက် ဝမ်းနည်းမှုနောင်တဆိုသည်လည်း မရှိတော့ပါ။ ပူဆွေးသောကမရှိပါ။

ဤကိစ္စမျိုးသည် ခြွင်းချက်အနေဖြင့် လူသားတွင်သာ ရှိနေရခြင်းအကြောင်းမှာ မဟာအောင်မြင်မှုရှင်များဟု ဆိုနေသူများသည်ပင်လျှင် မိမိတို့ လိုအင်ဆန္ဒက မြားမြောင်သလောက် အောင်မြင်မှုက နည်းခဲ့ခြင်းကြောင့် ဖြစ်သည်။ ထို့ကြောင့်လည်း သေအံ့ဆဲဆဲအချိန်တွင် သူတို့ဘဝသည် အခွင့်အလမ်းများနှင့် လွဲချော်ခဲ့ရသည်ဟု ခံစားနေမိကြသည်။ ပိုဆိုးသည်မှာ လောကကြီးထဲတွင် အနည်းငယ်သော စွမ်းဆောင်ချက်ကိုပင်လျှင်သေသည့်အခါသယ်ယူမသွားနိုင်ကြပါ။ ကံကြမ္မာ ရှေ့ရေးက မရေရာမသေချာဘဲ တစ်ဦးတည်းထီးတည်းသာ ခရီးဆက်ခဲ့ရသည်။

အဘယ်မျှ လွမ်းဆွေးဖွယ်ရာနည်း။ ဤသို့ဖြစ်ရခြင်းမှာ လူသည် ရုပ်ပိုင်းဆိုင်ရာအရ အကန့်အသတ်နှင့် ရပ်တည်ရသောသတ္တဝါဖြစ်သော်လည်း ပညာရပ်ပိုင်း၊ ဉာဏ်ရည်ပိုင်းဆိုင်ရာ စွမ်းရည်မှာ အကန့်အသတ်မရှိပေ။ လူ၏စိတ်တွင်း၌ ကွဲပြားခြားနားမှုကြောင့် ပြဿနာဖြစ်ပေါ်လာစေသည်။

အလုပ်ကို အားသွန်ခွန်စိုက်ကြိုးပမ်းလုပ်ဆောင်ပြီးနောက် လူသည် များစွာကြွယ်ဝချမ်းသာလာသည်။ သို့သော် အဆိုပါ ခေတ်ရေစီးနှင့် ဥစ္စာများကို ကောင်းစွာ မခံစားကြရဘဲ သေသွားရသည်။ သူသည် စိတ်ကူးယဉ်အိမ်ကလေးတည်ဆောက်ခဲ့သည်။ သို့သော်ကန့်သတ်ချက်များနှင့် အကျိုးမဲ့ ဆုံးရှုံးမှုများကြောင့် စည်းစိမ်ချမ်းသာကို အပြည့်အဝမခံစား၊ မပျော်ရွှင်ရဘဲ ဝမ်းနည်းစွာပင်သေခြင်းတရားကို ရင်ဆိုင်ခံစားရသည်။ လူသည် ဉာဏ်ပညာအရ ပြည့်စုံကြွယ်ဝသော်လည်း ၎င်းရသည့်အရာများမှာမူ မတည်မြဲပါ၊ ပြည့်စုံမှုမရှိပါ။ လူသည် ကာလကြာရှည် ကြိုးပမ်း၍ အောင်မြင်မှုရယူရမည့် ရည်မှန်းချက်ပန်းတိုင်သစ်များကို အတွေ့အကြုံရလာပြီးသည့်နောက်တွင် နောက်ထပ်မလိုချင်တော့ပါ။ အကြောင်းမှာ ရည်မှန်းချက်တစ်ခုကို ရောက်ရှိအောင်မြင်ပြီးနောက်တွင် ဤသည်လည်း မပြည့်စုံပါလားဟု သိမြင်လာသောကြောင့် ဖြစ်သည်။

ဤအခြေအနေတွင် မျှော်လင့်ချက်တော့ ရှိပါသေးသည်။ အကယ်၍ လူတို့၏ရုပ်ပိုင်းဆိုင်ရာ လိုအပ်ချက်များအား ကျေနပ်ရောင့်ရဲစေနိုင်သည့် လောကတစ်ခုကို သဘာဝတရားက ဖန်တီးနိုင်စွမ်းရှိပါလျှင် လူ၏အသိပညာနှင့် လိုက်လျောညီထွေရှိသော လောကတစ်ခုကိုလည်း ဖန်တီးပေးနိုင်ရမည်ဖြစ်ပါသည်။ အသိပညာအတွက် လောကကြီးတည်ရှိနေသော်လည်း ခြားနား မှုတစ်ခုတော့ ရှိနေပါသည်။

ရုပ်ပိုင်းဆိုင်ရာ သဘာဝလိုအပ်ချက်အရ လောကကြီးကို လူသား၏မသေမီကာလ ဘဝအတွက်ပေးအပ်ထားပြီး၊ အသိပညာ ဉာဏ်ရည်ပိုင်းဆိုင်ရာ လိုအပ်ချက်အရ သေလွန်ပြီးနောက်ဘဝအတွက် ပေးထားလိမ့်မည်ဖြစ်ပါသည်။ လူ့ဘဝသည် ရေခဲတောင်တစ်ခုနှင့်တူသည်။ ကန့်သတ်ချက်ရှိသော လောကီဆိုင်ရာ ဘဝသည် ပင်လယ်ထဲတွင်ပေါ်နေသော ရေခဲတောင်၏ထိပ်ဖျားနှင့်တူပြီး ဆုံးစမရှိသော အခြားဘဝသည် ရေခဲတောင်၏မြုပ်နေသော ပင်မအစိတ်အပိုင်းနှင့် တူပါသည်။

ထို့ကြောင့် လူသားသည် အားမလိုအားမရ ဖြစ်ရန်မလိုပေ။ လူတိုင်းသည် မိမိဘဝအတွက် စီမံကိန်း-၂ခု ချမှတ်ရန် လိုအပ်ပါသည်။ တစ်ခုမှာ လက်ရှိ မိမိဘဝအတွက် အခြေခံလိုအပ်ချက်ဖြစ်ပြီး၊ အခြားတစ်ခုမှာ အနာဂတ်ဘဝအတွက် လိုအပ်ချက်ဖြစ်ပါသည်။ ထို့ကြောင့်ဤ လောက၌အောင်မြင်သော ဘဝသည် အောက်ပါအယူအဆများကို အခြေပြုသော ဘဝဖြစ်ပါသည်။

လက်ရှိဘဝသည် ကျွန်တော်တို့ စိုက်ပျိုးနိုင်ရုံသာရှိသော နေရာဖြစ်ပြီး နောင်အနာဂတ်ဘဝတွင် ကျွန်တော်တို့ ရိတ်သိမ်းရမည့်နေရာဖြစ်ပါသည်။ အကယ်၍ ညစာစားသည့်အချိန်မှာ အသီးကိုစားရန်ဟူသော မျှော်လင့်ချက်ဖြင့် နံနက်ပိုင်းက အစေ့တစ်စေ့ကိုစိုက်ပျိုးခဲ့ပါမူ အသေအချာပင် ကျွန်ုပ်တို့ အားမလိုအားမရဖြစ်ရပါမည်။ သို့သော် ယခုအချိန်မှစပြီး နှစ်ပေါင်း ၁၀၀ကြာမှ ရိတ်သိမ်းမည်ဟုစီစဉ်ထားပါသလား။ သို့ဆိုလျှင် ကျွန်တော်တို့ အားမလိုအားမရ ဖြစ်စရာကြုံရလိမ့်မည်မဟုတ်ပေ။ အားမလိုအားမရဖြစ်ရခြင်းသည် မှားယွင်းသော မျှော်လင့်ချက်များကြောင့် ဖြစ်သည်။ ထို့ကြောင့် ''ယခုဘဝတွင် မျိုးစေ့ကြဲမည်။ ယင်းအသီးအပွင့်ကို နောက်ဘဝတွင် ပျော်ရွှင်စွာ ဆွတ်ယူသုံးစွဲမည်ဟူသော မိမိ၏ ဘဝအမြင်ဆိုင်ရာ အသိကြွယ်မှုဖြင့် ရှင်သန်မည်ဆိုလျှင် ဘယ်သောအခါမှ စိတ်ပျက် အားလျော့လိမ့်မည်မဟုတ်ပေ။

## ပန်းနှင့်ဆူးများ

ယနေ့ကန့်သတ်ချုပ်ချယ်ထားသော ကမ္ဘာလောကသည် တောမြိုင်ကြီးတစ်ခုနှင့် တူပါသည်။ ပန်းများဖူးပွင့်နေကြသည်။ ထိုပန်းများတွင် ဆူးများဝန်းရံနေကြသည်။ မနက်ဖြန်ပေါင်းများစွာ၌ ပန်းများနှင့် ဆူးများ သီးခြားစီခြားနားလာပေလိမ့်မည်။ အဆုံးစွန်ဘဝတွင် ဆူးများသာရှိနေမည့် ငရဲဘုံနှင့် ပန်းများသာရှိနေသည့် ဥယျာဉ်ဘုံဟူ၍ ခွဲထုတ်ခြင်းခံရပါလိမ့်မည်။

ယနေ့လောက အခြေအနေများသည် လူတို့၏ကိုယ်ရည်ကိုယ်သွေး ပြင်ဆင်ခြင်း အဆင့်တစ်ခုသာဖြစ်ပါသည်။ ဘုရားသခင်သည် လောကကို စမ်းသပ်ကွင်းအဖြစ်သာဖန်ဆင်းခဲ့သည်။ လူသားကို လွတ်လပ်သော စိတ်ဆန္ဒပေးထားသည်။ လူ၏အတွေးအခေါ်အကြံအစည်၊ ပြောဆိုမှု၊ အပြုအမူတို့ကို မှတ်တမ်းယူထားသည်။ ဤအချိန်တိုင်းတွင် အုပ်စုနှစ်ခုဖြစ်ပေါ်လျက်ရှိသည်။ တစ်ခုက ဆူး၊ တစ်ခုကပန်းဖြစ်သည်။ လူတိုင်း မိမိ၏ဘဝမှတ်တမ်းက တစ်ဆင့် မိမိသည် ပန်းအုပ်စုဝင်အဖြစ် အရည်အသွေးမီသူလော၊ ဆူးအုပ်စုဝင် အဖြစ်အရည်အသွေးမီသူလောဆိုသည်ကို ဖော်ပြလျက်ရှိကြသည်။

မျက်မှောက်လောကတွင် လူ၏ကိုယ်ရည်ကိုယ်သွေးကို ဘယ်အမျိုးအစားဝင်ဖြစ်ကြောင်းကို အထင်အရှားမခွဲခြားနိုင်သေးပါ။ သို့သော် နောင်တမလွန်တွင် ထင်ရှားသိသာစွာ ကွဲပြားသွားပါလိမ့်မည်။ ပန်းနှယ်အရည်အသွေးရှိသူများကို